**လျှို့ဝှက်**

**အကြောင်းအရာ။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ISEC Myanmar Co., Ltd. မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ နိုင်ငံတကာမျက်စိအထူးကုဆေးရုံလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုတင်ပြလာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ | - ISEC Myanmar Co., Ltd. |
| | ရင်းနှီးမြှုပ်နှံသူ | - ISEC Myanmar Co., Ltd. |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဍာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>ISEC Global Pte.Ltd. (စင်ကာပူ) မှ ၅၁ %<br>ဒေါ်ခင်ခင်ဝင်း (စင်ကာပူ) မှ ၅ %<br>Next Tier International Co., Ltd. (မြန်မာ) မှ ၃၃ %<br>ဒေါ်ပြည့်ပြည့်သိန်း (မြန်မာ) မှ ၁၁ % |
| | လုပ်ငန်းအမျိုးအစား | - နိုင်ငံတကာမျက်စိအထူးကုဆေးရုံ |
| ၂။ | တည်နေရာ | - မင်းရဲကျော်စွာစီးပွားရေးအဆောက်အအုံစီမံကိန်းအိမ်ရာ၊ အဆောက်အအုံအမှတ် (ဘီ)၊ Level-1 မှ Level-5 အထိ၊ ပြည်လမ်းနှင့်မင်းရဲကျော်စွာလမ်းထောင့်၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| ၃။ | အဆောက်အဦပိုင်ရှင် | - ဒေါ်ယုယုဝင်း |
| | အကျယ်အဝန်း | - |
| | အဆောက်အအုံအရေအတွက် | - (၅) ထပ်အဆောက်အဦ (၁)လုံး |
| | မြေ/အဆောက်အအုံ ငှားရမ်းခ(နှစ်စဉ်) | - ကျပ် ၁၄၄.၀၀ သန်း |
| | မြေ/အဆောက်အအုံငှားရမ်း/ အသုံးပြုခွင့်သက်တမ်း | - ၃၀ နှစ် |
| ၄။ | ရင်းနှီးမြှုပ်နှံပြုလုပ်လိုသည့် သက်တမ်း | - ၁၅ နှစ် |
| ၅။ | တည်ဆောက်မှုကာလ/ ပြင်ဆင်မှုကာလ | - ၁ နှစ် |
| ၆။ | စုစုပေါင်းမတည်ငွေရင်း | - အမေရိကန်ဒေါ်လာ ၁.၅၀ သန်း |

| **ထည့်ဝင်မည့် အမျိုးအစား** | **နိုင်ငံခြား US$ (သန်း)** | **မြန်မာ US$ (သန်း)** | **စုစုပေါင်း US$ (သန်း)** |
|---|---|---|---|
| ငွေသား | ၀.၁၅ | ၀.၁၅ | ၀.၃၀ |
| စက်နှင့်စက်ပစ္စည်းကိရိယာ | ၀.၆၂ | ၀.၃၈ | ၁.၀၀ |
| အဆောက်အဦပြင်ဆင်စရိတ် | - | ၀.၂၀ | ၀.၂၀ |
| စုစုပေါင်း | **၀.၇၇** | **၀.၇၃** | **၁.၅၀** |

**လျှို့ဝှက်**

Salient

<table>
<tr><td>၇။</td><td>နှစ်စဉ်ဝန်ဆောင်မှု(ပထမနှစ်)</td><td>
<table>
<tr><th>စဉ်</th><th>အမျိုးအမည်</th><th>ဝန်ဆောင်မှု အရေအတွက်</th><th>ဝန်ဆောင်ခနှုန်း (US$)</th></tr>
<tr><td>(က)</td><td>Cataract</td><td>၁၀၂</td><td>၁,၀၀၀</td></tr>
<tr><td>(ခ)</td><td>Retina</td><td>၁၉</td><td>၃,၂၀၀</td></tr>
<tr><td>(ဂ)</td><td>Glaucoma</td><td>၁၁</td><td>၁,၀၉၀</td></tr>
<tr><td>(ဃ)</td><td>Laser (Argon/Yag)</td><td>၃၆</td><td>၅၀၀</td></tr>
<tr><td>(င)</td><td>Oculoplastic</td><td>၃၆</td><td>၁,၉၀၀</td></tr>
<tr><td>(စ)</td><td>Minor Operation</td><td>၃၆</td><td>၂၀၀</td></tr>
<tr><td>(ဆ)</td><td>Other Investigation</td><td>၁၇၈</td><td>၈၀</td></tr>
</table>
</td></tr>
<tr><td>၈။</td><td>ဝန်ထမ်းခန့်ထားမှု</td><td>
<table>
<tr><th></th><th>ဦးရေ</th><th>ပြည်တွင်း</th><th>ပြည်ပ</th></tr>
<tr><td></td><td></td><td>၁၇</td><td>-</td></tr>
<tr><td>အနိမ့်ဆုံးလစာ(US$)</td><td></td><td>၁၀၀</td><td>-</td></tr>
<tr><td>အမြင့်ဆုံးလစာ(US$)</td><td></td><td>၅,၀၀၀</td><td>-</td></tr>
</table>
</td></tr>
<tr><td>၉။</td><td>အခြားတင်ပြချက်</td><td>- အတည်ပြုလျှောက်ထားလွှာနှင့်အတူ ISEC Myanmar Co., Ltd. ၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်၊ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း၊ JV Agreement၊ မြေနှင့်အဆောက်အဦပိုင်ရှင် ဒေါ်ယုယုဝင်းနှင့် ISEC Myanmar Co., Ltd. တို့အကြား ချုပ်ဆိုမည့် မြေနှင့်အဆောက်အဦငှားရမ်းခြင်းစာချုပ် (မူကြမ်း)၊ ဒေါ်ယုယုဝင်း အမည်ဖြင့် အဆောက်အဦပိုင်ဆိုင်မှု အထောက်အထားတို့ကို ပူးတွဲတင်ပြထားပါသည်။<br>- ငွေကြေးအထောက်အထားအဖြစ် ISEC Myanmar Co., Ltd. အမည်ဖြင့် Kanbawza Bank ၌ ၂၉-၁၀-၂၀၁၈ ရက်စွဲဖြင့် အမေရိကန်ဒေါ်လာ ၃၁,၀၂၈.၅၇ ရှိကြောင်းတင်ပြထားပါသည်။</td></tr>
<tr><td>၁၀။</td><td>စိစစ်တင်ပြချက်</td><td>- ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း) အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။<br>- အဆိုပြုလုပ်ငန်း၏ အလုပ်သမားများအတွက် သက်သာချောင်ချိရေးအစီအစဉ်၊ မီးဘေးကာကွယ်ရေးအစီအစဉ်၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးအစီ အစဉ်များနှင့် Corporate Social Responsibility (CSR) အစီအစဉ်များကို တင်ပြထားပါသည်။</td></tr>
</table>

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက-၅(အ)/အ-၀၃၈/ ၂၀၁၈(၃၆၈)
ရက်စွဲ၊ ၂၀၁၈ ခုနှစ် အောက်တိုဘာလ ၃၃ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ISEC Myanmar Co., Ltd. မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ နိုင်ငံတကာမျက်စိအထူးကုဆေးရုံလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုချက်တင်ပြလာခြင်းကိစ္စ**

၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် စင်ကာပူနိုင်ငံ ISEC Global Pte.Ltd. မှ ၅၁%၊ စင်ကာပူနိုင်ငံသူ ဒေါ်ခင်ခင်ဝင်း မှ ၅%၊ မြန်မာနိုင်ငံ Next Tier International Co., Ltd. မှ ၃၃% နှင့် မြန်မာနိုင်ငံ ဒေါ်ပြည့်ပြည့်သိန်း မှ ၁၁ % ထည့်ဝင်၍ မြန်မာနိုင်ငံတွင် ISEC Myanmar Co., Ltd. တည်ထောင်ပြီး မင်းရဲကျော်စွာစီးပွားရေးအဆောက်အအုံစီမံကိန်းအိမ်ရာ၊ အဆောက်အအုံအမှတ် (ဘီ)၊ Level-1 မှ Level-5 အထိ၊ ပြည်လမ်းနှင့်မင်းရဲကျော်စွာလမ်းထောင့်၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးတွင် နိုင်ငံတကာမျက်စိအထူးကုဆေးရုံလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အတည်ပြုချက် တင်ပြလာပါသည်။

၂။ အတည်ပြုလျှောက်ထားလွှာနှင့်အတူ ISEC Myanmar Co., Ltd. ၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်၊ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း၊ မြေနှင့်အဆောက်အဦပိုင်ရှင် ဒေါ်ယုယုဝင်းနှင့် ISEC Myanmar Co., Ltd. တို့အကြား ချုပ်ဆိုမည့် မြေနှင့်အဆောက်အဦငှားရမ်းခြင်း စာချုပ်(မူကြမ်း)၊ ဒေါ်ယုယုဝင်း အမည်ဖြင့် အဆောက်အဦပိုင်ဆိုင်မှု အထောက်အထားတို့ကို ပူးတွဲတင်ပြထားပါသည်။

၃။ မြေနှင့်အဆောက်အဦငှားရမ်းသက်တမ်းမှာ ကနဦး ၃၀ နှစ်၊ ၅ ထပ်အဆောက်အဦ(၁) လုံးအား ငှားရမ်းမည်ဖြစ်ပြီး နှစ်စဉ်ငှားရမ်းခမှာ ကျပ် ၁၄၄.၀၀ သန်း ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ၁၅ နှစ်ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၁ နှစ် ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ အတည်ပြုလုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၁.၅၀ သန်း ဖြစ်ပါသည်။ မတည်ငွေရင်းထည့်ဝင်မှုများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| ထည့်ဝင်မည့်အမျိုးအစား | နိုင်ငံခြား US$(သန်း) | မြန်မာ US$(သန်း) | စုစုပေါင်း US$(သန်း) |
|---|---|---|---|
| ငွေသား | ၀.၁၅ | ၀.၁၅ | ၀.၃၀ |
| စက်နှင့်စက်ပစ္စည်းကိရိယာ | ၀.၆၂ | ၀.၃၈ | ၁.၀၀ |
| အဆောက်အဦပြင်ဆင်စရိတ် | - | ၀.၂၀ | ၀.၂၀ |
| **စုစုပေါင်း** | **၀.၇၇** | **၀.၇၃** | **၁.၅၀** |

၆။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်း ၁၇ ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်းဝန်ထမ်းတစ်ဦး၏အနိမ့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၁၀၀ နှင့် အမြင့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၅,၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်း ခန့်ထားခြင်းမရှိပါ။

၇။ အဆိုပြုလုပ်ငန်းမှ ဝန်ဆောင်မှုပေးမည့် အရေအတွက်နှင့် ဝန်ဆောင်ခနှုန်းတို့မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | အမျိုးအမည် | ဝန်ဆောင်မှု အရေအတွက် | ဝန်ဆောင်ခနှုန်း (US$) |
|---|---|---|---|
| (က) | Cataract | ၁၀၂ | ၁,၀၀၀ |
| (ခ) | Retina | ၁၉ | ၃,၂၀၀ |
| (ဂ) | Glaucoma | ၁၁ | ၁,၀၉၀ |
| (ဃ) | Laser (Argon/Yag) | ၃၆ | ၅၀၀ |
| (င) | Oculoplastic | ၃၆ | ၁,၉၀၀ |
| (စ) | Minor Operation | ၃၆ | ၂၀၀ |
| (ဆ) | Other Investigation | ၁၇၈ | ၈၀ |

၈။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားလာပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** **(နောက်ဆက်တွဲ-က)**

အတည်ပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ၂၀၁၈ ခုနှစ် အောက်တိုဘာလ ၁၁ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့အစည်းအဝေး အမှတ်စဉ် ၃၉/ ၂၀၁၈၊ ဆုံးဖြတ်ချက်အပိုဒ် ၅၈ အရ မင်းရဲကျော်စွာစီးပွားရေးအဆောက်အအုံစီမံကိန်းအိမ်ရာ၊ အဆောက်အအုံအမှတ် (ဘီ)၊ Level-1 မှ Level-5 အထိ၊ ပြည်လမ်းနှင့်မင်းရဲကျော်စွာလမ်းထောင့်၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးကို ကန့်ကွက်ရန်မရှိကြောင်း သဘောထားမှတ်ချက်ပြန်ကြားခဲ့ပါသည်။

(ခ) **ကျန်းမာရေးနှင့်အားကစားဝန်ကြီးဌာန** **(နောက်ဆက်တွဲ-ခ)**

အတည်ပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ကျန်းမာရေးနှင့်အားကစားဝန်ကြီးဌာန၊ ကုသရေးဦးစီးဌာနအနေဖြင့် မျက်စိဆေးရုံလုပ်ငန်းအား ပုဂ္ဂလိကကျန်းမာရေးလုပ်ငန်းဆိုင်ရာဥပဒေ၊ နည်းဥပဒေများနှင့်အညီ ဆောင်ရွက်ရန်၊ ဆေးရုံအင်္ဂါရပ်များနှင့်ညီညွတ်ရန်၊ ဆောက်ရွက်မည့် ကျန်းမာရေးလုပ်ငန်းအမျိုးအစားအလိုက် လိုင်စင်လျှောက်ထားရန်နှင့် နိုင်ငံခြားသားဆရာဝန်များပါရှိပါက မြန်မာနိုင်ငံဆေးကောင်စီ၏ လုပ်ထုံးလုပ်နည်းများနှင့်အညီ ဆောင်ရွက်ရန် လိုအပ်ပါကြောင်း သဘောထားပြန်ကြားခဲ့ပါသည်။

၉။ ငွေကြေးအထောက်အထားအဖြစ် ISEC Myanmar Co., Ltd. အမည်ဖြင့် Kanbawza Bank ၌ ၂၉-၁၀-၂၀၁၈ ရက်စွဲဖြင့် အမေရိကန်ဒေါ်လာ ၃၁,၀၂၈.၅၇ ရှိကြောင်းတင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၁၀။ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း) အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) အဆိုပြုလုပ်ငန်း၏ အလုပ်သမားများအတွက် သက်သာချောင်ချိရေး အစီအစဉ်များ၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးအစီအစဉ်၊ မီးဘေးကာကွယ်ရေးအစီအစဉ်များ နှင့် Corporate Social Responsibility (CSR) အစီအစဉ်များကို တင်ပြထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ISEC Myanmar Co., Ltd. မှ နိုင်ငံတကာမျက်စိအထူးကု ဆေးရုံလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုချက် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ အတည်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ (ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ




**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်** **(နောက်ဆက်တွဲ-က)**

**တိုင်းဒေသကြီးအစိုးရအဖွဲ့**

**ရန်ကုန်တိုင်းဒေသကြီး**

စာအမှတ်၊ ၃ / ၆ - ၃ (၇) / တိုင်းရင်းသား

ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ အောက်တိုဘာလ ၁၇ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၅.၉.၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက - ၅ (အ) / အ - ၀၃၈ / ၂၀၁၈ (၃၂၅-က)

၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် စင်ကာပူနိုင်ငံ ISEC Global Pte.Ltd မှ ၅၁ %၊ စင်ကာပူနိုင်ငံ Daw Khin Khin Win မှ ၅ % ၊ မြန်မာနိုင်ငံ Net Tier International Co.,Ltd မှ ၃၃% နှင့် မြန်မာနိုင်ငံ ဒေါ်ပြည့်ပြည့်သိန်းမှ ၁၁ % ထည့်ဝင်ပြီး မြန်မာနိုင်ငံတွင် ISEC Myanmar Co.,Ltd တည်ထောင်ကာ မင်းရဲကျော်စွာစီးပွားရေးအဆောက်အအုံစီမံကိန်းအိမ်ရာ၊ အဆောက်အအုံအမှတ်(ဘီ)၊ Level-1 မှ Level-5 အထိ၊ ပြည်လမ်းနှင့်မင်းရဲကျော်စွာလမ်းထောင့်၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးတွင် နိုင်ငံတကာမျက်စိအထူးကုဆေးရုံလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံ လာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ ၁၁.၁၀.၂၀၁၈ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၃၉/၂၀၁၈)၊ ဆုံးဖြတ်ချက်အပိုဒ်(၆၁)အရ ကန့်ကွက်ရန်မရှိကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ်(ကိုယ်စား)

(နော်ပန်းသဉ္ဇာမျိုး၊ကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး)

**မိတ္တူကို**

တိုင်းဒေသကြီးဦးစီးမှူး၊ ရန်ကုန်တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

ရန်ကုန်အနောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန

လမ်းမတော်မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန

ISEC Myanmar Co.,Ltd

လက်ခံစာတွဲ/မျှောစာတွဲ

D/2018/Cabinet 38(5)




(နောက်ဆက်တွဲ-ခ)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ကျန်းမာရေးနှင့်အားကစားဝန်ကြီးဌာန

ဝန်ကြီးရုံး

စာအမှတ်၊ ၁၂မခ(က)၂၀၁၈(၄၆၀၅)/ ၁၇၁၂၀

ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ အောက်တိုဘာလ(၁၁)ရက်




သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

**အကြောင်းအရာ။ သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စအား ညှိနှိုင်းပြန်ကြားခြင်း။**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏(၂၅-၉-၂၀၁၈)ရက်စွဲပါစာအမှတ်၊ မရက-၅(အ)/အ-၀၃၈/၂၀၁၈(၃၂၅-ခ)။

၁။ အထက်အကြောင်းအရာနှင့်ပတ်သက်၍ စင်္ကာပူနိုင်ငံ ISEC Global Pte.Ltd မှ ၅၁%၊ စင်္ကာပူနိုင်ငံ Daw Khin Khin Win မှ ၅%၊ မြန်မာနိုင်ငံ Net Tier International Co.,Ltd မှ ၃၃% နှင့် မြန်မာနိုင်ငံ ဒေါ်ပြည့်ပြည့်သိန်းမှ ၁၁% ထည့်ဝင်ပြီး ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ISEC Myanmar Co.,Ltd တည်ထောင်ကာ မင်းရဲကျော်စွာစီးပွားရေးအဆောက်အအုံစီမံကိန်းအိမ်ရာ၊ အဆောက်အအုံအမှတ်(ဘီ)၊ Level-1 မှ Level-5 အထိ၊ ပြည်လမ်းနှင့်မင်းရဲကျော်စွာလမ်းထောင့်၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးတွင် နိုင်ငံတကာမျက်စိအထူးကုဆေးရုံလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန်နှင့် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် ညှိနှိုင်းခဲ့ပါသည်။

2.1895
19.10.18

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ ကျန်းမာရေးနှင့်အားကစားဝန်ကြီးဌာန၊ ကုသရေးဦးစီးဌာနအနေဖြင့် အထက်ပါမျက်စိအထူးကုဆေးရုံလုပ်ငန်းအား ပုဂ္ဂလိကကျန်းမာရေးလုပ်ငန်းဆိုင်ရာ ဥပဒေ၊ နည်းဥပဒေများနှင့်အညီ ဆောင်ရွက်ရန်၊ ဆေးရုံအင်္ဂါရပ်များနှင့်ညီညွတ်ရန်၊ ဆောင်ရွက်မည့် ကျန်းမာရေးလုပ်ငန်းအမျိုးအစားအလိုက် လိုင်စင်လျှောက်ထားရန်နှင့် နိုင်ငံခြားသားဆရာဝန်များပါရှိပါက မြန်မာနိုင်ငံဆေးကောင်စီ၏ လုပ်ထုံးလုပ်နည်းများနှင့်အညီ ဆောင်ရွက်ရန် လိုအပ်ပါကြောင်း သဘောထားမှတ်ချက် ညှိနှိုင်းပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)

(စိန်ဝင်း၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို-

ညွှန်ကြားရေးမှူးချုပ်၊ ကုသရေးဦးစီးဌာန